## နှစ်ဦးသဘောတူ မြေကွက်ငှားရမ်းခြင်း ကတိစာချုပ်

ဤ 'နှစ်ဦးသဘောတူ မြေကွက်ငှားရမ်းခြင်း ကတိစာချုပ်' ကို ................ခုနှစ်၊ ...................လ၊ ........ ရက်နေ့တွင် ဦးမျိုးအောင် (နောင်တွင် 'အငှားချထားသူ' ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအား ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေနှင့်အညီလွှဲအပ်ခြင်းခံရသူများ နှင့် အခြားတစ်နည်းနည်း ဖြင့် အကျိုးခံစားခွင့်ရှိသူများပါဝင်သည်) က တစ်ဖက်

နှင့်

Mr. Zuo Zhi Hai (Director) ကိုယ်စားပြုသော မြန်မာနိုင်ငံကုမ္ပဏီများဥပဒေအရ တရားဝင်ဖွဲ့စည်းထား သည့် Sun City Bago Industry Land Development Ltd., (နောင်တွင် 'အငှားယူသူ' ဟုခေါ်ဆိုမည် ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေနှင့်အညီ လွှဲအပ်ခြင်း ခံရသူများနှင့် အခြားတစ်နည်းနည်းဖြင့် အကျိုးခံစားခွင့်ရှိသူများ ပါဝင်သည်) က အခြားတစ်ဖက်တို့သည် အောက်ဖော်ပြပါ စည်းကမ်းချက်များနှင့်အညီ မြေကွက်ငှားရမ်းခြင်းကိစ္စရပ်အား ဆောင်ရွက်ကြရန် နှစ်ဦးနှစ် ဖက်ရေးသားချုပ်ဆို ကြပါသည်။

၁။ အဓိပ္ပါယ်ဖွင့်ဆိုခြင်း

ဤ 'နှစ်ဦးသဘောတူ မြေကွက်ငှားရမ်းခြင်း ကတိစာချုပ်' ပါစကားရပ်များသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများ၊ နည်းဥပဒေများနှင့် တစ်နည်းနည်းဖြင့် ဆန့်ကျင်ခြင်းမရှိလျှင် အောက်ပါစကားရပ်များအတိုင်း အဓိပ္ပါယ်သက်ရောက်စေရမည်-

(၁-၁) **'စာချုပ်'** ဆိုသည်မှာ **ဤ 'နှစ်ဦးသဘောတူ မြေကွက်ငှားရမ်းခြင်း ကတိစာချုပ်' ကိုဆိုလို၍ ဤစာချုပ် နှင့်သက်ဆိုင်သော နောက်ဆက်တွဲစာရွက်စာတမ်းများအားလုံး** ပါဝင်သည်ဟု မှတ်ယူသည်။

(၁-၂) **'နှစ်ဖက်ပုဂ္ဂိုလ်'** ဆိုသည်မှာ **'အငှားချထားသူ'** နှင့် **'အငှားယူသူ' နှစ်ဦးစလုံးကို** ဆိုလိုသည်။ **'စာချုပ်ဝင် တစ်ဖက်ဖက်'** ဆိုသည်မှာ **'အငှားချထားသူ' သို့မဟုတ် 'အငှားယူသူ' တစ်ဦးဦးကို** ဆိုလို သည်။

(၁-၃) **'အငှားချထားသောမြေကွက်များ'** နှင့် **'ငှားရမ်းထားသောမြေကွက်များ'** ဆိုသည်မှာ **အောက်အပိုဒ်ခွဲ (၃)တွင် ဖော်ပြထားသော မြေကွက်အားလုံးကို** ဆိုလိုသည်။

(၁-၄) **'လုပ်ငန်း'** ဆိုသည်မှာ **'Sun City Project အား ဆိုလို၍ ယင်းလုပ်ငန်းတွင် စက်ရုံများနှင့်ရုံးခန်း အဆောက်အဦများတည်ဆောက်၍ ပြန်လည်အငှားချထားခြင်းလုပ်ငန်းကို'** ဆိုလို သည်။

(၁-၅) **'တရားရုံး'** ဆိုသည်မှာ **'ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်းရှိ စီရင်ပိုင်ခွင့်အာဏာရှိသော တရားရုံးတစ်ရုံးရုံး'**ကို ဆိုလိုသည်။

(၁-၆) **'ဥပဒေ' 'နည်းဥပဒေ' နှင့် 'စည်းမျဉ်းစည်းကမ်း'** ဆိုသည်မှာ **'ပြည်ထောင်စုသမ္မတ မြန်မာ နိုင်ငံတော်၏ တည်ဆဲဥပဒေများ၊ နည်းဥပဒေများနှင့် စည်းမျဉ်းစည်းကမ်းများကို'** ဆိုလို သည်။

(၁-၇) **'မြန်မာနိုင်ငံ'** ဆိုသည်မှာ **'ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်'** ကို ဆိုလို သည်။

၂။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

(၂-၁) ဤ 'နှစ်ဦးသဘောတူ မြေကွက်ငှားရမ်းခြင်း ကတိစာချုပ်' အား လက်မှတ်ရေးထိုးချုပ်ဆိုရန် အငှားချ ထားသူသည် သက်ဆိုင်ရာဥပဒေများအရ တရားဝင်အခွင့်အရေးနှင့် အခွင့်အာဏာ ရှိပြီး Mr. Zuo Zhi Hai (Director) မှလည်း မိမိသည် ဤစာချုပ်အား Sun City Bago Industry Land Development Ltd., ၏ ကိုယ်စား လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိကြောင်း အသီးသီး အာမခံကြသည်။

(၂-၂) အငှားချထားသူမှ အငှားချထားသောမြေကွက်များသည် မိမိတစ်ဦးတည်းသာလျှင် တရားဝင်ပိုင်ဆိုင် ၍ မိမိမှအငှားချထားပိုင်ခွင့်ရှိကြောင်းနှင့် ငှားရမ်းစဉ်ကာလနှင့်သက်တမ်းတိုးငှားရမ်းမည့်ကာလအတွင်း မည်

သည့်အနှောင့်အယှက်၊ အဟန့်အတား တစ်စုံတစ်ရာမျှမရှိစေဘဲ ကောင်းမွန်စွာအသုံးပြုနိုင်ရန် မိမိသည် အာမခံကြောင်းဝန်ခံကတိပြုပါသည်။

၃။ ငှားရမ်းသည့်မြေကွက်များ

ငှားရမ်းမည့်မြေကွက်(၆)ခု၏ စုစုပေါင်းမြေဧရိယာမှာ(၄၉)ဧက ဖြစ်ပြီး အောက်တွင်ဖော်ပြထားသော မြေကွက်များ ဖြစ်ပါသည်။

(၁) ပဲခူးတိုင်းဒေသကြီး၊ ပဲခူးခရိုင်၊ ပဲခူးမြို့နယ်၊ ဘူးလယ်အင်းကျေးရွာအုပ်စု၊ နဂုတ်ကြီးကွင်း၊ ကွင်းအမှတ်-၁၁၇၆၊ ဦးပိုင်အမှတ်- ၁/၂၇ (စက်ရုံမြေ) ဧရိယာ(၁.၈၅)ဧက မြေပေါ်မြေအောက်ရှိ အကျိုးခံစားခွင့် အရပ်ရပ်များအားလုံး။

(၂) ပဲခူးတိုင်းဒေသကြီး၊ ပဲခူးခရိုင်၊ ပဲခူးမြို့နယ်၊ ဘူးလယ်အင်းကျေးရွာအုပ်စု၊ နဂုတ်ကြီးကွင်း၊ ကွင်းအမှတ်-၁၁၇၆၊ ဦးပိုင်အမှတ်- ၄ (စက်ရုံမြေ) ဧရိယာ(၈.၉၇)ဧက မြေပေါ်မြေအောက်ရှိ အကျိုးခံစားခွင့် အရပ်ရပ်များ အားလုံး။

(၃) ပဲခူးတိုင်းဒေသကြီး၊ ပဲခူးခရိုင်၊ ပဲခူးမြို့နယ်၊ ဘူးလယ်အင်း ကျေးရွာအုပ်စု၊ နဂုတ်ကြီးကွင်း၊ ကွင်းအမှတ်-၁၁၇၆၊ ဦးပိုင်အမှတ်-၁ (စက်ရုံမြေ) ဧရိယာ(၁၁.၉၀)ဧက မြေပေါ်မြေအောက်ရှိ အကျိုးခံစားခွင့် အရပ်ရပ်များအားလုံး။

(၄) ပဲခူးတိုင်းဒေသကြီး၊ ပဲခူးခရိုင်၊ ပဲခူးမြို့နယ်၊ ဘူးလယ်အင်းကျေးရွာအုပ်စု၊ နဂုတ်ကြီးကွင်း၊ ကွင်းအမှတ်-၁၁၇၆၊ ဦးပိုင်အမှတ်- N.၂၉ (စက်ရုံမြေ) ဧရိယာ (၄.၄၂)ဧက မြေပေါ်မြေအောက်ရှိ အကျိုးခံစားခွင့် အရပ်ရပ်များ အားလုံး။

(၅) ပဲခူးတိုင်းဒေသကြီး၊ ပဲခူးခရိုင်၊ ပဲခူးမြို့နယ်၊ ဘူးလယ်အင်း ကျေးရွာအုပ်စု၊ နဂုတ်ကြီးကွင်း၊ ကွင်းအမှတ်-၁၁၇၆၊ ဦးပိုင်အမှတ်- N.၂၇ (စက်ရုံမြေ) ဧရိယာ (၁၉.၆၆)ဧက မြေပေါ်မြေအောက်ရှိ အကျိုးခံစားခွင့် အရပ်ရပ်များ အားလုံး။

(၆) ပဲခူးတိုင်းဒေသကြီးပဲခူးခရိုင်၊ ပဲခူးမြို့နယ်၊ ဝါးမရမ်းကျေးရွာအုပ်စု၊ ကြေးတိုင်ပြင်ကွင်း၊ ကွင်းအမှတ် OSS-၇၅၊ (OA) (စက်ရုံမြေ)၊ ဧရိယာ(၃၆.၅၀)ဧကမှ ဧရိယာ(၂.၂)ဧက မြေပေါ်မြေအောက်ရှိ အကျိုးခံစားခွင့် အရပ်ရပ်များ အားလုံး။

၄။ စာချုပ်ချုပ်ဆိုခြင်း

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် ရရှိပြီးနောက် စာချုပ်အားချုပ်ဆိုပါမည်။

၅။ စာချုပ်တရားဝင်အတည်ဖြစ်ခြင်းနှင့် အကျိုးသက်ရောက်ခြင်း

(၅-၁) ဤစာချုပ်သည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ တရားဝင်အတည်ဖြစ်မည်။

(၅-၂) ဤစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိသည့်နေ့မှစ၍ စတင်အကျိုး သက်ရောက်မည် ဖြစ်သည်။

၆။ သက်တမ်း

(၆-၁) ဤ "နှစ်ဦးသဘောတူ မြေကွက်ငှားရမ်းခြင်း ကတိစာချုပ်" ၏သက်တမ်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီးနောက် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ နှစ်ပေါင်း(၅၀) သတ်မှတ်သည်။

(၆-၂) ဤ 'နှစ်ဦးသဘောတူ မြေကွက်ငှားရမ်းခြင်း ကတိစာချုပ်' မှာ နှစ်ဦးသဘောတူ သတ်မှတ်ထားသော သက်တမ်းနှစ်(၅၀) မပြည့်မီအထိ ပျက်ပြယ်ခြင်းအလျဉ်းမရှိဘဲ (နှစ်ဦးသဘောတူညီချက်များနှင့် ဥပဒေများကို ချိုးဖောက်ခြင်းမှအပ) အသက်ဝင်နေမည်။

(၆-၃) မြေကွက်ငှားရမ်းခြင်းသက်တမ်း နှစ်(၅၀)ပြည့်ပြီးနောက် နှစ်ဦးနှစ်ဖက်ဆန္ဒရှိပါက အတူတကွညှိနိုင်း၍ နောက်ထပ် (၂)ကြိမ်၊ တစ်ကြိမ်လျှင် (၁၀)နှစ် ဆက်လက်၍ သက်တမ်းတိုးမြှင့် ငှားရမ်းသွားမည်ဖြစ်သည်။

၇။ ဥပဒေလွှမ်းမိုးခြင်းနှင့် တရားစီရင်ပိုင်ခွင့်
ဤ 'နှစ်ဦးသဘောတူ မြေကွက်ငှားရမ်းခြင်း ကတိစာချုပ်' အား ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ဥပဒေနှင့်အညီ ချုပ်ဆို၍လွှမ်းမိုးသည်။

၈။ ငှားရမ်းခငွေပေးချေခြင်း
တစ်ဧက(43560 $ft^2$) လျှင် တစ်နှစ်ငှားရမ်းခ (USD 1264.8) ဖြစ်ပြီး မြေကွက်(၆)ခု၏ စုစုပေါင်းဧရိယာ (၄၉)ဧက (2134440$ft^2$) အတွက် တစ်နှစ်စာငှားရမ်းခတန်ဖိုးငွေ ( USD 61975.2) တိတိဖြင့် ငှားရမ်းသည့်ကာလစုစုပေါင်း နှစ်ပေါင်း (၅၀)အတွက် ကျသင့်သောငှားရမ်းခတန်ဖိုးငွေ စုစုပေါင်း (USD 3,098,760) တိတိအား ယနေ့ဤ 'နှစ်ဦးသဘောတူမြေကွက်ငှားရမ်းခြင်းကတိစာချုပ်' ချုပ်ဆို၍ လက်မှတ်ရေးထိုးချိန်တွင် အငှားယူသူမှ တစ်လုံးတစ်ခဲတည်း ပေးအပ်သည်ကို အငှားချထားသူမှ အပြည့်အဝလက်ခံရရှိကြောင်း ဤစာချုပ်ဖြင့် ဝန်ခံကတိ ပြုပါသည်။

၉။ အငှားယူသူ၏ တာဝန်နှင့် အခွင့်အရေး
(၉-၁) အငှားယူထားသော မြေကွက်များပေါ်တွင် အငှားယူသူ၏ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် လိုအပ်သောစက်ရုံများနှင့် လိုအပ်သောအခြားအဆောက်အဦများအား တည်ဆောက်ခွင့်ရှိသည်။
(၉-၂) အငှားယူသူသည် လုပ်ငန်းများကို 'မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်' ၏ ခွင့်ပြုမိန့်ရရှိပြီးနောက် မည်သည့်ကြန့်ကြာမှုမျှ မရှိစေဘဲ ဆောင်ရွက်ရမည်။
(၉-၃) အငှားယူထားသော မြေကွက်များအား ငှားရမ်းထားစဉ်ကာလအတွင်း အငှားယူသူဖက်မှ အခြားမည်သူ့ကိုမဆို ထပ်ဆင့်ငှားရမ်းပိုင်ခွင့်နှင့် ၎င်းမြေကွက်များအား စီမံခန့်ခွဲပိုင်ခွင့် အပြည့်အဝရှိသည်။
(၉-၄) အငှားယူသူသည် အငှားယူထားသည့်မြေကွက်များပေါ်တွင် စက်ရုံများနှင့် ရုံးခန်းအဆောက်အဦများ တည်ဆောက်ခြင်း၊ ထပ်ဆင့်အငှားချထားခြင်းနှင့် အခြားစီးပွားရေးလုပ်ငန်းများ လည်ပတ်လုပ်ကိုင်ဆောင်ရွက်ရန် အတွက် သက်ဆိုင်ရာအစိုးရ အာဏာပိုင်များအား အသိပေးအကြောင်းကြားရမည်။
(၉-၅) အငှားယူသူသည် မိမိ၏လုပ်ငန်းလည်ပတ်လုပ်ကိုင် ငှားရမ်းနေထိုင်စဉ်ကာလအတွင်း မိမိနှင့်သက်ဆိုင်သည့် အခွန်အခများအား တာဝန်ယူ၍ ပေးဆောင်ရမည်။
(၉-၆) အငှားယူသူသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများ၊ နည်းဥပဒေများနှင့်ဆန့်ကျင်သော မည်သည့်တရားမဝင်လုပ်ငန်းမျှ မပြုလုပ်ရ။
(၉-၇) အငှားယူသူသည် မိမိနှင့်သက်ဆိုင်သော နိုင်ငံခြားသား မိသားစုဝင်များ၊ ဧည့်သည်များနှင့် အလုပ်သမားများအား မြန်မာနိုင်ငံအတွင်း နေထိုင်၍အလုပ်လုပ်ကိုင်စေပါက ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေများကိုလိုက်နာစေရန်နှင့် မြန်မာနိုင်ငံ၏ပြည်တွင်းရေးများတွင် ဝင်ရောက်စွက်ဖက်ခြင်းများ မပြုလုပ်စေရန် တာဝန်ယူရမည်။
(၉-၈) အငှားယူသူသည် မြန်မာနိုင်ငံ၏တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ ညွှန်ကြားချက်များနှင့် အမိန့်ကြေငြာချက်များအား လိုက်နာဆောင်ရွက်ရမည်။
(၉-၉ ) အငှားယူသူသည် မြေငှားရမ်းခြင်းသက်တမ်းကာလမပြည့်သေးမီ အငှားယူထားသော မြေကွက်များပေါ်မှ မိမိသဘောဖြင့် (အငှားချထားသူ၏ ပြုလုပ်မှု တစ်စုံတစ်ရာကြောင့် မဟုတ်ဘဲ) ဖယ်ရှားခဲ့ပါက ပေးချေထားပြီးဖြစ်သော ငှားရမ်းခငွေများကို ပြန်လည်ရရှိမည် မဟုတ်ပါ။

၁၀။ အငှားချထားသူ၏ တာဝန်
(၁၀-၁) အငှားချထားသော မြေကွက်များနှင့်ပတ်သက်၍ အခြား မည်သည့်ပုဂ္ဂိုလ်၊ မည်သည့်အစိုးရအာဏာပိုင်များနှင့်မျှ အရှုပ်အရှင်း တစ်စုံတစ်ရာမရှိကြောင်း ဝန်ခံကတိပြုပါသည်။
(၁၀-၂) အငှားချထားသော မြေကွက်များသည် ယခုအငှားချထားခြင်းမတိုင်မီ အခွန်တော်ကြွေးမြီများကင်းရှင်းကြောင်းနှင့် အကယ်၍ ဤငှားရမ်းခြင်းအား အခြားတစ်ဦးဦးမှဆန့်ကျင်ခဲ့လျှင် ပေါ်ပေါက်လာသော ပြ

သာနာအရပ်ရပ်နှင့် ပတ်သက်၍ အငှားယူသူအား တစ်စုံတစ်ရာထိခိုက်နစ်နာဆုံးရှုံးမှု လုံးဝမရှိစေဘဲ အငှားချထားသူမှ အလုံးစုံတာဝန်ယူဖြေရှင်းပေးရမည်။
(၁၀-၃) အငှားချထားသူသည် အငှားချထားသော မြေကွက်များ၏မြေခွန်အားလုံးကို တာဝန်ယူ၍ပေးဆောင်ရမည်။
(၁၀-၄) အငှားချထားသူသည် မြေကွက်များအား စက်မှုမြေငှားဂရမ်ရရှိစေရန် ဆောင်ရွက်ပေးသွားမည် ဖြစ်ပြီး ၎င်းမြေကွက်များ၏ သက်တမ်းတိုးခြင်းဆိုင်ရာကိစ္စရပ်များအားလည်း တာဝန်ယူဆောင်ရွက်ပေးရမည်။
(၁၀-၅) အငှားချထားသူမှ ကတိပြုသည်မှာ အငှားချထားသောမြေကွက်များသည် စက်မှုမြေအဖြစ် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုမိန့်ရရှိထားသော မြေကွက်များဖြစ်ပြီး၊ စက်ရုံများတည်ဆောက်၍ လုပ်ငန်းလည်ပတ်လုပ်ကိုင်ခြင်း၊ အငှားချထားခြင်း၊ အခြားစီးပွားရေးလုပ်ငန်းများ လုပ်ကိုင်ခြင်းနှင့် လူနေထိုင်ခြင်းများအား ဥပဒေနှင့်ဆန့်ကျင်ခြင်း မရှိစေရန် ဆောင်ရွက်ပေးရမည်။
(၁၀-၆) အငှားချထားသောမြေကွက်များအား မြေကွက်ငှားရမ်းစာချုပ်သက်တမ်းမပြည့်သေးမီ အငှားချထားသူမှ အခြားသူတစ်ဦးဦးအား ထပ်မံငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ ပေးကမ်းခြင်း၊ စွန့်လွှတ်ခြင်း၊ လှူဒါန်းခြင်း၊ လွှဲပြောင်းပေးခြင်းနှင့် ငှားရမ်းထားသောမြေကွက်များအတွင်းသို့ ခွင့်ပြုချက်မရှိဘဲ ဝင်ရောက်ခြင်း၊ အငှားယူသူ၏ပစ္စည်းများအား အငှားယူသူမသိရှိဘဲ ကိုင်သွယ်ခြင်း၊ စွန့်ပစ်ခြင်းနှင့် အငှားယူထားသောမြေကွက်ဥပစာများမှ အငှားယူသူအား ဖယ်ရှားနှင်ထုတ်ခြင်းများ မပြုလုပ်ရ။

၁၁။ အခွန်အခများ ပေးဆောင်ရန်တာဝန်

စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် ဥပဒေနှင့်အညီ မိမိနှင့်သက်ဆိုင်သော အခွန်အခများကို အသီးသီးပေးဆောင်ကြမည်။

၁၂။ ဥပဒေနှင့်အညီ ဆောင်ရွက်ခြင်း

(၁၂-၁) နှစ်ဖက်ပုဂ္ဂိုလ်တို့သည် ဤ 'နှစ်ဦးသဘောတူ မြေကွက်ငှားရမ်းခြင်း ကတိစာချုပ်' အရ မိမိတို့လိုက်နာရမည့် စည်းကမ်းချက်များနှင့် လိုက်နာဆောင်ရွက်ရမည့် လုပ်ဆောင်ချက်အသီးသီးအား ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများ၊ အမိန့်ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားကြရန် သဘောတူပါသည်။
(၁၂-၂) နှစ်ဖက်ပုဂ္ဂိုလ်တို့သည် ဤ 'နှစ်ဦးသဘောတူ မြေကွက်ငှားရမ်းခြင်း ကတိစာချုပ်' ၏ ရည်ရွယ်ချက်များ အမှန်တကယ် အကောင်အထည်ဖော် ဆောင်ရွက်နိုင်စေရန် နှစ်ဦးနှစ်ဖက်မှ ကတိပြုထားသည့်အတိုင်း သဘောရိုးဖြင့် လိုက်နာဆောင်ရွက်ပါမည်ဟု အသီးသီးဝန်ခံကတိပြုသည်။

၁၃။ သဘာဝသံယံဇာတနှင့် သတ္တုအရင်းအမြစ်များ

အငှားယူသူသည် မြေကွက်များငှားရမ်း၍ လုပ်ငန်းလည်ပတ်လုပ်ကိုင်နေစဉ် ကာလအတွင်း ၎င်းမြေပေါ်၊ မြေအောက်မှ သတ္တုတွင်းထွက်ပစ္စည်းများ၊ အဖိုးတန်ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများနှင့် အခြားအဖိုးတန်သဘာဝသံယံဇာတများတွေ့ရှိပါက(၂၄)နာရီအတွင်း ကော်မရှင် (သို့) သက်ဆိုင်ရာဒေသအစိုးရအာဏာပိုင်များအား အသိပေး အကြောင်းကြားရမည်။

၁၄။ စာချုပ်အားပြန်လည်စေ့စပ်ညှိနှိုင်းခြင်းနှင့် ပြင်ဆင်ခြင်း

ဤ 'နှစ်ဦးသဘောတူ မြေကွက်ငှားရမ်းခြင်း ကတိစာချုပ်' ပါ စည်းကမ်းချက်များနှင့် နှစ်ဦးသဘောတူညီမှုများသည် လုပ်ငန်းများအမှန်တကယ် အကောင်အထည်ဖော် ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေတစ်ရပ်ရပ်ကြောင့် ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင်ဖြစ်စေ၊ ဤစာချုပ်ပါအခြေအနေများနှင့် မတူညီသောအခြေအနေများ ပေါ်ပေါက်လာသဖြင့် စာချုပ်အားပြင်ဆင်ရန် လိုအပ်လာလျှင်ဖြစ်စေ၊ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်မှ စေ့စပ်ညှိနှိုင်းပြီး စာဖြင့်ရေးသား၍ ပြင်ဆင်နိုင်သည်။ ထိုပြင်ဆင်ချက်များအား စာချုပ်၏တစ်စိတ်တစ်ပိုင်း အဖြစ်မှတ်ယူရမည်။

၁၅။ မလွန်ဆန်နိုင်သောဖြစ်ရပ်

(၁၅-၁) မလွန်ဆန်နိုင်သောဖြစ်ရပ်များ ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊လေဘေး၊ မီးဘေး၊မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့်ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် တစ်ဖက်ဖက်မှ လိုအပ်သောသတိဝီရိယနှင့်ဆောင်ရွက်စေကာမူ မလွန်ဆန်၊မကျော်လွှားနိုင် သည့် အလားတူဖြစ်ရပ်များ ဖြစ်သည်။

(၁၅-၂) ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ်များ ပေါ်ပေါက်လာပါက ၎င်းဖြစ်ရပ်ကြောင့် မြေကွက်များငှားရမ်းသည့် အဓိကရည်ရွယ်ချက်ဖြစ်သော Sun City Project လုပ်ငန်းတည်ဆောက်ခြင်း (သို့) လုပ်ငန်း လည်ပတ်ခြင်းတို့ ဆက်လက်လုပ်ဆောင်ရန် ကြန့်ကြာနှောင့်နှေးမှုဖြစ်ခဲ့လျှင် ၎င်းအချိန်ကာလအား စာချုပ်ပါ မြေငှားရမ်းသက်တမ်းမှ ထုတ်နုတ်၍ခံစားခွင့်ပေးမည်ဖြစ်ပြီး မလွန်ဆန်နိုင်သောဖြစ်ရပ်များ ပေါ်ပေါက်သည့်ကာလအတိုင်း အလိုအလျောက် လုပ်ငန်းဆောင်ရွက်ချိန်နှင့် မြေငှားရမ်းကာလအား တိုးမြှင့်သွားမည်ဖြစ်၍ တိုးမြှင့်သောအချိန်သည် ဆက်လက်လုပ်ဆောင်ရန် ကြန့်ကြာနှောင့်နှေးသော အချိန်နှင့်ညီမျှသည်။

၁၆။ အနညာတစီရင်ဆုံးဖြတ်ခြင်း

(၁) ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက်မှ ငြိမ်းချမ်းသော နည်းလမ်းဖြင့် ဖြေရှင်းရမည်။ အငြင်းပွားမှုအား ငြိမ်းချမ်းစွာ ဖြေရှင်း၍မရပါက အငြင်းပွားသည့် ကိစ္စရပ်အား အငှားချထားသူမှ စာဖြင့်ရေးသားသဘောတူ၍ ရွေးချယ်သည့် အဖွဲ့ဝင်(၁)ဦး၊ အငှားယူသူမှ စာဖြင့်ရေးသားသဘောတူ၍ ရွေးချယ်သည့် အဖွဲ့ဝင်(၁)ဦးနှင့် ၎င်းအဖွဲ့ဝင်(၂)ဦးမှ ရွေးချယ်သည့် အဖွဲ့ဝင်(၁)ဦး စုစုပေါင်းအဖွဲ့ဝင်(၃)ဦး ပါဝင်သည့် ခုံသမာဓိ ကော်မတီထံသို့ တင်ပြ၍ အဆုံးအဖြတ်ခံယူရမည်။

(၂) အနညာတစီရင်ဆုံးဖြတ်ခြင်းလုပ်ငန်းစဉ်အား ခုံသမာဓိကော်မတီဖွဲ့စည်းပြီး (၁၀)ရက်အတွင်း ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ရန်ကုန်မြို့၌ ဆောင်ရွက်သွားမည်ကို နှစ်ဦးနှစ်ဖက်မှ သဘောတူကြသည်။ ခုံသမာဓိကော်မတီသည် အမှုနှင့်စပ်လျဉ်း၍ နှစ်ဦးနှစ်ဖက်မှ တင်ပြချက်များရရှိပြီးနောက် ရက်ပေါင်း(၃၀) အတွင်း ဆုံးဖြတ်ချက် ချမှတ်ပေးရမည်။ ခုံသမာဓိကော်မတီ၏ ဆုံးဖြတ်ချက်သည် (၁)အပြီးသတ်ဖြစ်သည် (၂) နှစ်ဘက်အငြင်းပွားသူနှင့် ၎င်းတို့ကိုဆက်ခံအရေးဆိုသူတို့အပေါ်တွင် စည်းနှောင်မှုရှိသည် (၃) စီရင်ပိုင်ခွင့်အာဏာရှိသောမည့်သည့် တရားရုံးကဖြစ်စေ အငြင်းပွားသူတစ်ဦးဦးအပေါ်တွင် အတည်ပြုဆောင်ရွက်နိုင်သည်။

(၃) စီရင်ချက်ချမှတ်ခြင်းခံရသူသည် အနညာတစီရင်ဆုံးဖြတ်ချက်နှင့်ဆက်စပ်သည့် ကုန်ကျစရိတ်ငွေအားလုံးတွင် တာဝန်ရှိသည်။

(၄) အထက်တွင်ဖော်ပြခဲ့သောအပိုဒ်များ၌ မပါဝင်သည့်ကိစ္စရပ်များနှင့်စပ်လျဉ်း၍လည်း အနညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေ (၂၀၁၆) အား အသုံးပြုသွားမည်ဖြစ်သည်။

၁၇။ စာချုပ်အား ချိုးဖောက်ခြင်း၊ တမင်မလိုက်နာခြင်းနှင့် ပျက်ကွက်ခြင်း

(၁၇-၁) အငှားချထားသူဘက်မှ အထက်တွင် မိမိဝန်ခံကတိပြုထားသော အချက်များမှ တစ်ခုခုအား ချိုးဖောက်ခြင်း၊ တမင်မလိုက်နာခြင်းနှင့် ပျက်ကွက်ခြင်းစသည့် တစ်စုံတစ်ရာပြုလုပ်ခြင်းကြောင့် အငှားယူသူမှ ငှားရမ်းထားသောမြေကွက်များအား ဆက်လက်အသုံးပြုခွင့်အား လက်လွှတ်ဆုံးရှုံးခြင်း (သို့) အငှားချထားသောမြေကွက်များအား အထက်အပိုဒ်(၁)၊ အပိုဒ်ခွဲ(၁-၄) တွင်ဖော်ပြထားသောလုပ်ငန်းအဖြစ် အငှားယူသူမှ ဆောင်ရွက်အကောင်အထည်ဖော် အသုံးပြုခွင့်မရခဲ့ပါက ၎င်းမြေကွက်များအား ရောင်းချလျှင်ရရှိမည့် ကာလပေါက်ဈေးတန်ဖိုးငွေအတိုင်း ပေးလျော်မည့်အပြင် အငှားယူသူ၏နစ်နာမှုအားလုံး (လုပ်ငန်းမတည်ရင်းနှီးငွေနှင့် လုပ်ငန်းမှရရှိနိုင်သော ကြိုတင်ခန့်မှန်းအမြတ်ငွေများ) ကို အငှားယူသူအား ပေးလျော်ပါမည်။

(၁၇-၂) အငှားယူသူဘက်မှလည်း အထက်တွင် မိမိဝန်ခံကတိပြုထားသော အချက်များမှတစ်ခုခုအား ချိုးဖောက်ခြင်း၊ တမင်မလိုက်နာခြင်းနှင့် ပျက်ကွက်ခြင်းများ ပြုလုပ်ခဲ့ပါက မိမိပေးချေထားပြီးဖြစ်သော ငှားရမ်းခငွေအားလုံးကို အဆုံးရှုံးခံပါမည်။

၁၈။ ငှားရမ်းမြေ ပြန်လည်လွှဲပြောင်းပေးခြင်း

စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် (၃)လအတွင်း ငှားရမ်းထားသောမြေကွက်များအား ပြန်လည်လွှဲပြောင်းပေးသွားမည်ဖြစ်ပြီး မြေကွက်များပေါ်၌တည်ဆောက်ထားသော အဆောက်အဦများနှင့် ရွှေ့ပြောင်း၍မရနိုင်သောပစ္စည်းများကို မြေရှင်ထံသို့ပြန်လည်အပ်နှံပြီး၊ ရွှေ့ပြောင်းနိုင်သောပစ္စည်းများကို ငှားရမ်းသူမှ ဖြုတ်ယူသယ်ဆောင်သွားနိုင်သည်။

၁၉။ အကြောင်းကြားခြင်း

ဤစာချုပ်နှင့်ပတ်သက်သော မည်သည့်အကြောင်းကြားစာ၊ အထောက်အထား စာရွက်စာတမ်းနှင့် အခြားဆက်သွယ်မှုမျိုးမဆို စာဖြင့်ရေးသား၍ ဤမြေငှားစာချုပ်တွင် ဖော်ပြထားသော လိပ်စာများသို့ ပေးပို့ရမည်။ အကယ်၍ စာချုပ်ဝင်တစ်ဦးဦးက လိပ်စာပြောင်းလဲရန် စာဖြင့်ရေးသား အကြောင်းကြားလျှင် ပြောင်းလဲထားသောလိပ်စာသို့သာ ပေးပို့ရမည်။

၂၀။ ဘာသာစကား

ဤစာချုပ်အား မြန်မာဘာသာနှင့်အင်္ဂလိပ်ဘာသာ နှစ်မျိုးဖြင့်ရေးသား ထားရှိသွားမည်ဖြစ်ပြီး အကယ်၍ ဘာသာစကားနှစ်ခုပဋိပက္ခဖြစ်ခဲ့လျှင် မြန်မာဘာသာဖြင့်ရေးသားထားသော စာချုပ်ကိုသာလျှင် တရားဝင်အတည်ပြု အသုံးပြုသွားမည် ဖြစ်ပါသည်။

၂၁။ အထွေထွေ

(၂၁-၁) အငှားယူထားသော မြေကွက်များပေါ်တွင် စက်ရုံများနှင့်ရုံးခန်းအဆောက်အဦများတည်ဆောက်ပြီးနောက် မည်သည့်တတိယပုဂ္ဂိုလ်ထံသို့မဆို ၎င်းမြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦများအား ထပ်ဆင့်ငှားရမ်းခွင့်ရှိကြောင်းနှင့် အငှားချထားသူမှလည်း ၎င်းထပ်ဆင့်ငှားရမ်းခြင်းအား အပြည့်အဝသဘောတူပါသည်။
(၂၁-၂) အငှားယူသူမှ ဖိတ်ခေါ်၍ဝင်ရောက်လာသော ရင်းနှီးမြှုပ်နှံသူလုပ်ငန်းရှင်များ၏ စက်ရုံတစ်ခုချင်းစီအတွက် သီးခြားအဆိုပြုလွှာ၊ အတည်ပြုလွှာများကိုလည်း အငှားယူသူမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ထံသို့ တင်ပြတောင်းခံသွားမည် ဖြစ်ပါသည်။
(၂၁-၃) အငှားယူသူသည် တည်ဆောက်ပြီး စက်ရုံများ၊ ရုံးခန်းအဆောက်အဦများနှင့် Sun City Project တစ်ခုလုံးအား စီမံခန့်ခွဲသွားရန် Sun City Project ၏ စီမံခန့်ခွဲရေးကော်မတီတစ်ခုအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ထံမှ ခွင့်ပြုမိန့်ရရှိပြီးချိန်တွင် ပဲခူးတိုင်းအစိုးရ၏ လမ်းညွှန်ချက်များနှင့်အညီ ဖွဲ့စည်းဆောင်ရွက်သွားမည်ဖြစ်ပါသည်

အထက်စာချုပ်ပါ စကားရပ်အသီးသီးတို့အား မိမိတို့ကိုယ်တိုင် သေချာစွာဖတ်ရှု သိရှိ၊ နားလည်၊ သဘောပေါက်ကြပြီး မည်သူတစ်ဦးတစ်ယောက်၏ ခြိမ်းခြောက်ခြင်း၊ သွေးဆောင်ခြင်း၊ ဖြားယောင်းခြင်း၊ မလျော်ဩဇာသုံးခြင်း အလျဉ်းမရှိဘဲ မိမိတို့ကိုယ်စိတ်နှလုံးကျန်းမာရွှင်လန်းစဥ်တွင် မိမိတို့၏လွတ်လပ်သော သဘောဆန္ဒအရ ဤ 'နှစ်ဦးသဘောတူ မြေကွက်ငှားရမ်းခြင်း ကတိစာချုပ်' အား အောက်ပါအသိသက်သေများ၏ရှေ့မှောက်တွင် မျက်နှာစုံညီ လက်မှတ်ရေးထိုး၍ချုပ်ဆိုကြပါသည်။

| **အငှားချထားသူ** | **အငှားယူသူ**<br>Sun City Bago Industry Land Developmemt Ltd<br>( ကိုယ်စား ) |
|---|---|
| အမည် - ဦးမျိုးအောင် | အမည် - Mr. Zuo Zhi Hai<br>ရာထူး - Director |
| မှတ်ပုံတင် - ၁၂/တမန(နိုင်) ၀၅၂၁၇၃ | နိုင်ငံကူးလက်မှတ် - |
| နေရပ်လိပ်စာ - အခန်း(၅၀၄)၊ဗိုလ်ချုပ်အောင်ဆန်းလမ်း နှင့်ဝါးတန်းလမ်းထောင့်၊လမ်းမတော်မြို့နယ်၊ရန်ကုန်။ | နေရပ်လိပ်စာ- အမှတ်(၃၉/၄၀)၊အခန်း(၉ဃ-၁)၊၉ လွှာ၊လှည်းတန်းလမ်း၊(၈)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ရန်ကုန်။ |

**အသိသက်သေများ**

w

| | |
|---|---|
| အမည် - | အမည် - |
| မှတ်ပုံတင် - | မှတ်ပုံတင်/နိုင်ငံကူးလက်မှတ် - |
| နေရပ်လိပ်စာ - | နေရပ်လိပ်စာ - |

Land Leasing Agreement between the Two Parties

This "Land Leasing Agreement between the Two Parties" is signed by U Myo Aung (hereinafter referred to as "the lessor") and the term "lessor" includes his heirs, legal agents, persons entrusted in accordance with the law, and persons otherwise entitled),

and

Sun City Bago Industry Land Development Ltd, established under the Myanmar Company Law, whose agent is Mr. Zuo Zhi Hai (Director) (hereinafter referred to as "Lessee", and the term "lessee" also includes his heirs, legal agents, persons entrusted by law and persons otherwise entitled) as the other party to sign the land lease agreement in accordance with the following terms and conditions.

1.Definition

The meaning of the following words in this Agreement, if not in violation with current laws and implementation specifics, will be illustrated as follows:

(a) "Agreement" means "the Agreement on Land Leasing between the Two Parties" and includes all relating appendices.

(b) "Both parties" means the lessor and lessee, and one party to the agreement means "the lessor" or "the lessee".

(c) "Leased plots" or "Rental plots" means all plots of land in the article 3rd below.

(d) "Project" means "the Sun City Project, which is a project for building factories and offices for rental purpose."

(e) "Court" means any court with jurisdiction within the Republic of the Union of Myanmar.

(f) "Law", "Rules" and Regulations" refer to current Laws, Rules and Regulations of the Union of Myanmar.

(g) "Myanmar" means the Republic of the Union of Myanmar.

2.Warrants and Representation

(a) In signing of this Land Lease Agreement between the Two parties, the lessor warrants that he is capable of sign in accordance with the relevant laws; The lessee Mr. Zuo Zhi Hai (director) also warrants that he has the right on proxy signature of Sun City Bago Industry Land Development Ltd Both parties respectively warrant they have the right to sign this Land Leasing Agreement.

(b) The lessor warrants that the leased plots are legally owned by him personally and he is capable for renting them. During the lease term and its extension, there will be no harassment and obstacles on the land, and the land could be used peacefully.

3. Leased plots

6 plots, total area of 49 acres

(a) Bago Region, Bago District, Bago Township, Buulae-Inn Village, Nagotekyee Kwin, Plot No.1176, No.1/27 (The nature is industrial land) with an area of 1.85 acres and entitled all rights above and below the land.

(b) Bago Region, Bago District, Bago Township, Buulae-Inn Village, Nagotekyee Kwin, Plot No.1176, No.4 (The nature is industrial land) with an area of 8.97 acres and entitled all rights above and below the land.

(c) Bago Region, Bago District, Bago Township, Buulae-Inn Village, Nagotekyee Kwin, Plot No.1176, No.1 (The nature is industrial land) with an area of 11.90 acres and entitled all rights above and below the land.

(d) Bago Region, Bago District, Bago Township, Buulae-Inn Village, Nagotekyee Kwin, Plot No.1176, No.29（The nature is industrial land) with an area of 4.42 acres and entitled all rights above and below the land.

(e) Bago Region, Bago District, Bago Township, Buulae-Inn Village -, Nagotekyee Kwin, Plot No.1176, No.27（The nature is industrial land) with an area of 19.66 acres and entitled all rights above and below the land.

(f) Bago Region, Bago District, Bago Township, Warmayan Village, Kyay Tain Pyin Kwin, OSS -75, (OA) (The nature is industrial land）with an area of 36.50 acres, including 2.2 acres, and entitled all rights above and below the land.

4. Sign of the Agreement

After being approved by the Myanmar Investment Commission, the agreement will be signed.

5. Legitimacy and entry into force of the agreement

(a) The agreement shall become legitimate on the date of signature.

(b) This Agreement shall enter into force on the date of obtaining approval of the Myanmar Investment Commission.

6. Duration

(a) The term of lease of this Land Leasing Agreement between the Two Parties will be 50 years after signature of both parties when approved by the Myanmar Investment Commission.

(b) This Land Leasing Agreement between the Two Parties shall maintain force for 50 years before expiring, which is stipulated in the Agreement between the Parties (except for violation of the Agreement and the Law).

(c) When 50 years of lease term expires, the parties may consult for two extensions of 10 years every time, if they agree.

7. Legal effects

This Land Leasing Agreement between the Parties shall be concluded within the Republic of the Union of Myanmar and the laws of Myanmar shall apply.

8. Rent payments

The lessor promises and guarantees an annual rent of $1264.8 for an acre (43560 square feet), since the total area of the land composed of 6 plots with areas of 49 acres (2134,440 square feet), so the sum of rent is USD 61,975.2/year, which means a whole rent is USD 3,098, 760 for 50 years. On the date of signature of this agreement, the lessor have signed for receiving whole amount of rent for 50 years.

9. Liability and Interests of lessee

(a) Lessees entitled to use the leased land for development of the lessee's project, factory and other necessary buildings for construction project.

(b) The lessee shall commence the project without delay after obtaining permit from the Myanmar Investment Commission.

(c) Lessee entitled to sublet, plan and manage the land during the lease term.

(d) The lessee will register in the concerning governmental authorities when they build factories and other buildings on the land leased, rent them and using for other commercial purpose.

(e) The lessee shall be responsible for paying taxes related to the operation of the project during the lease period.

(f) The lessee shall not undertake any project that is contrary to the laws in force in Myanmar.

(g)The lessee shall be responsible for their foreign families, relatives and employees concerned, and shall ensure they comply with the laws of the Union of Myanmar and do not involved in internal affairs when them in Myanmar.

(h) The lessee shall comply with the laws, implementing specifics, decrees and laws and regulations of Myanmar.

(i) The rent already paid will not be refunded before expiration of the term of lease if the lessee leaves out of its own violation (for reasons other than that of the lessor).

10. Liability of Lessor

(a) The lessor warrant that the land is in no dispute with any person or government authorities.

(b) Before leased, the plots bear no tax duties, and if there is any objection to the lease by someone, the lessor shall be responsible for settlement and shall not cause any loss to the lessee.

(c) The lessor will be responsible for paying the entire land tax for the leased plots.

(d) The lessor will be responsible for obtaining the deed for industrial use of the plots and also for the extension of the deed.

(e) The Lessor warrants that the land type of the plots falls in the category of industrial land, and has been approved for construction of factory, operation, leasing and other commercial projects as well as residence, which are all legal.

(f) Before the term of the land leased expires, the lessor shall not lease again, mortgage, sell, present, donate, and transfer them to any other person, or enter, use, discard the lessee's belongings, or expel the lessee out of the leased land.

11. Tax duties

Both parties to the agreement shall fulfill their respective tax duties in accordance with the provisions of the law.

12. Compliance with the law

Both parties agree that they will abide by and perform their respective matters of the Land Leasing Agreement between the Two Parties and will observe and comply with the existing laws, implementing specifics, laws and regulations and instructions of the Union of Myanmar.

(b) Both Party promise that both of them shall performance in accordance with the true purposes of this Agreement.

13. Natural and mineral resources

During the operation of this project, if any minerals, jewelry, antiques and other natural resources are found on the ground or underground, the relevant local authorities must be notified within 24 hours by the lessee.

14. Consultation and Amendment

Should there be unforeseen circumstances resulting in incapability of continuing and contradicting with the current Agreement in real time execution, which commands modification, the terms and conditions of this "Land Leasing Agreement" may be amended by both parties via correspondences of consultation. Such amendment will be part of the agreement.

15. Force Majeure event

(a) Force Majeure events refer to events except for natural flood, wind disaster, fire, earthquake, like being restricted and prohibited by state government, restricted by laws and chaos, war, protests etc, which are beyond one's control. Should the project be affected by force majeure events, both parties are exempted of liabilities.

(b) If construction or operation of an industrial park is hindered by a force majeure event, the contract term will be automatically extended for a period equal to the construction or operation is hindered in.

16. Arbitration

If any dispute arising from the Land Lease Agreement, the two parties shall settle the dispute amicably. If no peaceful settlement is arrived, the matter shall be summited for settlement, upon written request of either party, to an arbitration committee composed of three members, one selected by the Lessor, another by the Lessee, and the third by the two (2) arbitrators thus chosen.

(2) The arbitration proceedings shall be conducted in a place in Yangon, Myanmar acceptable to both parties and shall commence not later than (10) calendar days after the arbitration committee is constituted. The arbitration committee shall render its decision within thirty (30) calendar days after the parties have completed presenting their respective cases. The decision of the arbitration committee shall (i) be final (ii) be binding upon the Lessor and the Lessee and persons claiming under them respectively, and (iii) be enforceable against either party in any court of competent jurisdiction.

(3) All expenses in connection with the arbitration proceedings shall be borne by the party against whom the award is made.

(4) In respect of matters not covered by the preceding paragraphs, the provisions of the Arbitration Law 2016 shall apply.

17.Breach of contract

(a)If the lessor breach or intentionally fail to comply with any of the above commitments, which deprive the lessee's right of the plots or of using them, so the lessee can not carry out the project referred to in above article 1 subparagraphs(a) to (d), the lessor will compensate the lessee at market price at the time of default on the 6 plots leased, also all the economic losses the lessee suffered (including the lessor's input investment and predictable profits from it)

(b)The lessee will lose all of the rent paid by him in case of default or failure to comply with the above commitments deliberately.

18. Return of the plots

After the expiration of the agreement, the land will be returned within 3 months. The buildings and immovable on the land will be owned by the landlord, and the movables will be taken away by the lessor.

19. Notification

Any notice, evidence and other contact relating to this agreement shall be communicated in writing to the address specified in this agreement. If a party notifies the address alternation by correspondence, it needs to send to the changed address.

20. Language

This Agreement shall be written in both Burmese and English. If two editions have divergence, the Myanmar version shall prevail.

21. Miscellaneous

(a) The lessee has the right to sublease the factory and office constructed on the leased plots to the third party and the lessor gives the lessee right to sublease.

(b) For investors invited by the lessee, they are responsible for their respective proposals of each factory which will be submitted and acceptance by the Myanmar Investment Commission.

(c) For the management of the factories and offices constructed by the lessee and the whole Sun City Project, the Sun City Project Management Committee ( to be established )shall be under the direction of the Government of Bago, subject to the approval of the Myanmar Investment Commission.

With the above contract contents have been carefully read and understood by the two parties themselves, without being intimidated, deceived or subjected to power by any person, and under their own health conditions, according to their own free choice, before the following witnesses: sign this Agreement on Long-term Land Leasing between Two Parties.

| Lessor | Lessee |
|---|---|
| | Sun City Bago Industry Land Development Ltd (agent) |
| Name： U Myo  Aung | Name： Mr. Zuo Zhi Hai |
| ID: | ID/Passport: |
| | Title: Director |
| Add: Room No.(B-504), Between Bogyoke Aung Sun street and Wartan street, Lanmataw Township,Yangon. | Add: No.(39/40),Room 9D1, 9Floor, Hledan street, 8)Quarter,Kamaryut Township, Yangon. |



Witness

| | |
|---|---|
| Name： | Name： |
| ID: | ID |
| Address: | Address: |

နှစ်ဦးသဘောတူ မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦ ထပ်ဆင့်ငှားရမ်းခြင်း ကတိစာချုပ်

၂၀ ခုနှစ်၊ လ၊ ရက်နေ့တွင် အောက်အမည်ပါသူတို့က ဤ 'နှစ်ဦးသဘောတူ မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦ ထပ်ဆင့်ငှားရမ်းခြင်း ကတိစာချုပ်' အား ပြုလုပ်ချုပ်ဆိုခဲ့ကြသည်။

အငှားချထားသူ။ ။Sun City Bago Industry Land Development Ltd
(ကိုယ်စား)
Mr.
အမှတ်(၃၉/၄၀)၊ဇယ၊ဇလ္လာ၊လှည်းတန်းလမ်း၊(၈)ရပ်ကွက်၊ကမာရွတ်မြို့နယ်၊ ရန်ကုန်။

အငှားယူသူ။ ။ Co.,Ltd
(ကိုယ်စား)
Mr.



(အငှားချထားသူနှင့်အငှားယူသူ ဟူသောစကားရပ်တွင် ဤသဘောတူစာချုပ်၏ ရည်ရွယ်ချက်အတွက် ၎င်းတို့ကိုယ်တိုင်အပြင် ၎င်းတို့၏ အမွေစား အမွေခံများ၊ တရားဝင်ကိုယ်စားလှယ်များ၊ စီမံခန့်ခွဲခွင့်ရှိသူများ၊ အမှုဆောင်များ ပါဝင်ကြောင်း မှတ်ယူမည်။)

ဤစာချုပ်တွင် အောက်ပါစကားရပ်များအား ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများ၊ နည်းဥပဒေများနှင့် တစ်နည်းနည်းဖြင့်ဆန့်ကျင်ခြင်းမရှိလျှင် ယှဉ်တွဲဖော်ပြပါ စကားရပ်များဖြင့် အစားထိုး အသုံးပြုဖော်ပြသွားမည် ဖြစ်ပါသည်-

**(၁) အငှားချထားသူ** ဆိုသည်မှာ **Sun City Bago Industry Land Development Ltd** အား ဆိုလိုသည်။

**(၂) အငှားယူသူ** ဆိုသည်မှာ ----------------------------------------Co.,Ltd အားဆိုလိုသည်။

**(၃) နှစ်ဦးနှစ်ဖက်** ဆိုသည်မှာ **အငှားချထားသူ** နှင့် **အငှားယူသူ** အားဆိုလိုသည်။

**(၄) မြေ** ဆိုသည်မှာ **Sun City Project အတွင်းရှိ Zone ( ) ၏ မြေဧရိယာ ( sqf) အား** ဆိုလိုသည်။

**(၅) စက်ရုံ** ဆိုသည်မှာ **Sun City Project ၏ Zone ( )ရှိ အလျား( )၊ အနံ ( )၊ အမြင့် ( ) ရှိသော စက်ရုံ ( )လုံး**အား ဆိုလိုသည်။

(၆) **ရုံးခန်းအဆောက်အဦ** ဆိုသည်မှာ **Sun City Project ၏ Zone ( )ရှိ အလျား( )၊ အနံ ( )၊ အမြင့် ( ) ရှိသော ရုံးခန်းအဆောက်အဦ ( ) လုံးကို** ဆိုလိုသည်။

(၇) **Sun City Project** ဆိုသည်မှာ'**စက်ရုံများနှင့်ရုံးခန်း အဆောက်အဦများ တည်ဆောက်၍ ပြန်လည်အငှားချထားခြင်းလုပ်ငန်း'** ကိုဆိုလိုသည်။

**(၈) လုပ်ငန်း** ဆိုသည်မှာ **အငှားယူသူမှ ဆောင်ရွက်မည့် ( ) လုပ်ငန်း**အား ဆိုလိုသည်။

**(၉) စာချုပ်** ဆိုသည်မှာ ဤ **နှစ်ဦးသဘောတူ မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦ ထပ်ဆင့်ငှားရမ်းခြင်း ကတိစာချုပ်** အားဆိုလိုသည်။

**(၁၀) မလွန်ဆန်နိုင်သော ဖြစ်ရပ်များ** ဆိုသည်မှာ **သဘာဝအလျောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေ စိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် တစ်ဖက်ဖက်မှ လိုအပ်သောသတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်၊ မကျော်လွှားနိုင်သည့် အလားတူ ဖြစ်ရပ်များကို** ဆိုလိုသည်။

(အငှားချထားသူက မိမိသည် မြန်မာနိုင်ငံကုမ္ပဏီများဥပဒေအရ တရားဝင်ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီအဖွဲ့အစည်းဖြစ်ပြီး ယခုအငှားချထားမည့်မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦအား တရားဝင်စီမံခန့်ခွဲ၍ ထပ်ဆင့်အငှားချထားပိုင်ခွင့် အပြည့်အဝရှိကြောင်း ဝန်ခံကတိပြုပါသည်။)

၁။ ငှားရမ်းခနှင့် ငှားရမ်းသည့်ကာလ

အငှားချထားသူသည် အဆိုပါမြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦအား အငှားချထားရန်သဘောတူပြီး အငှားယူသူမှလည်း အဆိုပါမြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦအား ငှားရမ်းခနှုန်းထား တစ်လလျှင် (USD ) ဖြင့် (၂၀ - - ) မှ (၂၀ - - )ထိ ( )နှစ် အငှားယူရန် သဘောတူကြသည်။

၂။ ငှားရမ်းခပေးချေခြင်း

( )နှစ်အတွက် ကျသင့်သော စုစုပေါင်းငှားရမ်းခငွေ (USD ) အား ၂၀ ၊ လ၊ ရက် နေ့တွင် အငှားယူသူမှပေးချေရာ အငှားချထားသူမှ လက်ခံရရှိပါသည်။

၃။ အငှားယူသူ၏တာဝန်

၃-၁။ အငှားယူသူသည် အငှားယူသည့် မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦအား ( ) လုပ်ငန်းအတွက်သာလျှင် အသုံးပြုရမည်။ အငှားယူသူမှ အငှားချထားသူနှင့် သဘောတူညီထားသောလုပ်ငန်းနှင့် မသက်ဆိုင်သည့်လုပ်ငန်းများအား လုပ်ကိုင်ခဲ့လျှင်ဖြစ်စေ တည်ဆဲဥပဒေများနှင့် ဆန့်ကျင်သည့်လုပ်ငန်းများ ဆောင်ရွက်ခဲ့သည်ဖြစ်စေ အငှားယူသူ၏ တာဝန်သာလျှင်ဖြစ်ပြီး တရားဥပဒေအရ အရေးယူခံရသည့်နေ့မှစ၍ ငှားရမ်းခြင်းကာလရပ်စဲမည်။

၃-၂။ အငှားယူသူသည် အငှားယူထားသည့်ကာလအတွင်း အငှားယူထားသည့် မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦအား အခြားမည်သူတစ်ဦးတစ်ယောက်ကိုမျှ ထပ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းခြင်း၊ ပေါင်နှံခြင်းနှင့်ရောင်းချခြင်းများ မပြုလုပ်ရ။

၃-၃။ အငှားယူသူသည် မိမိဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ထံသို့ အတည်ပြုလွှာ (သို့) အဆိုပြုလွှာအား တင်ပြဆောင်ရွက်သွားရမည်။

၃-၄။ အငှားယူထားသည့်ကာလအတွင်း အငှားယူသူ၏အစိုးရဥပဒေနှင့် မလွတ်ကင်းသည့် လုပ်ငန်းတစ်စုံတစ်ရာ လုပ်ကိုင်ခြင်းကြောင့် အငှားယူထားသည့် မြေ၊ စက်ရုံ၊ ရုံးခန်းအဆောက်အဦနှင့် အခြားငှားရမ်းခြင်းနှင့်မသက်ဆိုင်သော အငှားချထားသူပိုင်ဆိုင်၍ စီမံခန့်ခွဲပိုင်ခွင့်ရှိသော မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦများအား အစိုးရ (သို့) သက်ဆိုင်ရာဌာနမှ ချိတ်ပိတ်ခြင်း၊ သိမ်းဆည်းခြင်းများခံရပါက ပေါ်ပေါက်လာသည့်နစ်နာဆုံးရှုံးမှုများအတွက် အငှားချထားသူပိုင်ဆိုင်၍ စီမံခန့်ခွဲပိုင်ခွင့်ရှိသော မြေကွက်တစ်ခုလုံးနှင့် စက်ရုံ၊အဆောက်အဦများ၏ ကာလတန်ဖိုးအတိုင်း ပေးလျော်ရမည်။

၃-၅။ အငှားယူသူမှ မိမိနှင့်သက်ဆိုင်သော နိုင်ငံခြားသားအတတ်ပညာရှင်များ၊ အလုပ်သမားများ ၎င်းတို့၏ မိသားစုများအား မြန်မာနိုင်ငံအတွင်း နေထိုင်အလုပ်လုပ်ကိုင်စေပါက ၎င်းနိုင်ငံခြားသား အတတ်ပညာရှင်များနှင့် ဝန်ထမ်းများ၊ ၎င်းတို့၏ မိသားစုများသည် မြန်မာနိုင်ငံ၏တည်ဆဲ ဥပဒေများ၊ နည်းဥပဒေများနှင့် စည်းမျဉ်းစည်းကမ်းများကို လိုက်နာစေရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးများတွင် ဝင်ရောက်စွက်ဖက်ခြင်း မရှိစေရန် အငှားယူသူမှ တာဝန်ယူရမည်။

၃-၆။ အငှားယူသည့် စက်ရုံ၊ ရုံးခန်းအဆောက်အဦနှင့်သက်ဆိုင်သော စည်ပင်သာယာခွန်၊ ရေခွန်နှင့် လျှပ်စစ်မီတာခများအား တာဝန်ယူပေးဆောင်ရမည်။
၃-၇။ အငှားချထားသူ၏ စာဖြင့်ကြိုတင်ခွင့်ပြုချက်မရရှိဘဲ အငှားယူထားသော မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦအား အနည်းငယ် (သို့) သိသာထင်ရှားသော ပုံသဏ္ဍာန်ပြောင်းလဲ ပြုပြင်မှုများအား လုံးဝ (လုံးဝ) မပြုလုပ်ရ။
၃-၈။ လိုအပ်သည့် စစ်ဆေးမှုများပြုလုပ်ရန် ရည်ရွယ်ချက်ဖြင့် သင့်လျော်သောအချိန်တွင် အငှားချထားသူ (သို့) အငှားချထားသူ၏ အခွင့်ရကိုယ်စားလှယ်က မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦ ဥပစာအတွင်းသို့ ဝင်ရောက်ရန်ရှိပါက သင့်လျော်သော နို့တစ်စာဖြင့် အသိပေး အကြောင်းကြားလာခြင်းအား ခွင့်ပြုရမည်။
၃-၉။ အငှားယူထားသော မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦသည် အငှားယူသူကြောင့်ဖြစ်စေ အငှားယူသူ၏ အလုပ်သမားများကြောင့်ဖြစ်စေ ပျက်စီးခြင်း (သို့) နစ်နာဆုံးရှုံးခြင်း ဖြစ်ပေါ်ပါက အငှားချထားသူသို့ တန်ဖိုးအတိုင်းပြန်လည် ပေးလျော်ရမည်။ အငှားယူသူ၏ မတတ်စွမ်းနိုင်သော ပြုလုပ်မှုတစ်စုံတစ်ရာကြောင့် ဆီလျော်သော ယိုယွင်းဆွေးမြေ့မှု (သို့) ပျက်စီးမှုများနှင့် မသက်ဆိုင်စေရ။
၃-၁၀။ ငှားရမ်းသည့်သက်တမ်း ကုန်ဆုံးချိန်၌ (သို့) အချိန်စော၍ငှားရမ်းခြင်းကို ရပ်စဲရာ၌ အငှားယူသူသည် အငှားယူထားသော မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦအား မူလအနေအထားအတိုင်း အငှားချထားသူသို့ ငြိမ်းချမ်းစွာလက်ရောက်ပေးအပ် လွှဲပြောင်းအပ်နှံရမည်။ အငှားယူသူသည် ငှားရမ်းခြင်းသက်တမ်း ကုန်ဆုံးပြီးနောက် ၎င်းမြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦအား လက်ရောက်ပေးအပ်လွှဲ ပြောင်းရန် ပျက်ကွက်ခဲ့လျှင် အငှားချထားသူမှ လက်ရောက်သိမ်းယူနိုင်ခွင့်ရှိသည်။
၃-၁၁။ ငှားရမ်းခြင်းသက်တမ်း ကုန်ဆုံးပြီးနောက် အငှားယူသူမှ မိမိတပ်ဆင်ထားသော ပစ္စည်းများအားဖြုတ်သိမ်းသယ်ဆောင်ခွင့်ရှိသည်။ ကျန်ခဲ့သည့်ပစ္စည်းများအား စွန့်ပစ်ပစ္စည်းများအဖြစ်မှတ်ယူမည်ဖြစ်သည်။
၃-၁၂။ အငှားယူသူသည် မိမိစက်ရုံနှင့်ရုံးခန်းအဆောက်အဦအနီးပတ်ဝန်းကျင်ရှိ အခြားသူများအား စိတ်အနှောင်အယှက်ဖြစ်စေမည့် မည်သည့်ပြုလုပ်မှုမျိုးမဆို မပြုလုပ်ရန်နှင့် မိမိ၏အလုပ်သမားဝန်ထမ်းများအားလည်း ထိုသို့မပြုလုပ်စေရန် တာဝန်ယူရမည်။
၃-၁၃။ အငှားယူသူသည် ဤစာချုပ်မှကျသင့်မည့် တံဆိပ်ခေါင်းခွန်အား ပေးဆောင်ရမည့်အပြင် အခြားမိမိနှင့်သက်ဆိုင်ရာ အခွန်များအားလည်း ပေးဆောင်ရမည်။
၃-၁၄။ အငှားယူသူသည် မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦအား အငှားယူထားစဉ်ကာလ တစ်လျှောက် **Sun City Project** ၏ စီမံခန့်ခွဲရေးကော်မတီမှ ချမှတ်ထားသော စည်းမျဉ်းစည်းကမ်းများကိုလည်း တသွေမတိမ်း လိုက်နာဆောင်ရွက်ရမည်။

၄။ အငှားချထားသူ၏တာဝန်များ
၄-၁။ အငှားချထားသူသည် မိမိအငှားချထားသော မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦအား အခွန်တော်ကြွေးမြီများ ကင်းရှင်းကြောင်း၊ အကယ်၍ ဤငှားရမ်းခြင်းကို တစ်ဦးဦးမှဆန့်ကျင်ခဲ့လျှင် အငှားချထားသူမှ ပေါ်ပေါက်လာသော ပြဿနာအားလုံးကို အငှားယူသူအား မထိခိုက်စေဘဲ (သို့) နစ်နာဆုံးရှုံးမှုမရှိစေဘဲ ဖြေရှင်းပေးရမည်။
၄-၂။ အငှားချထားသော မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦနှင့် ပတ်သက်၍ မိမိနှင့်သက်ဆိုင်သောအခွန်အမျိုးမျိုးအား ပေးဆောင်ရမည်။
၄-၃။ အငှားချထားသော မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦအား အဆင်ပြေစွာ အသုံးပြုနိုင်ရေးအတွက် အငှား ယူသူ၏ ကုန်ကျစရိတ်ဖြင့် စက်ရုံနှင့်စက်ရုံဥပစာ၊ ရုံးခန်းနှင့်ရုံးခန်းဥပစာအား ပြောင်းလဲခြင်း၊ ပြင်ဆင်ခြင်း၊ ယာယီထပ်ပိုးခြင်း၊ တိုးတက်အောင်ပြုလုပ်ခြင်း နှင့် အခြားသင့်လျော်သော တပ်ဆင်မှုများအားလည်း အငှားယူသူမှ လိုက်နာဆောင်ရွက်နိုင်ရန်အတွက် အငှားချထားသူမှ ခွင့်ပြုချက်ထုတ်ပေးရမည်။
၄-၄။ ငှားရမ်းခြင်းသက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းခြင်းများ မရှိတော့လျှင် အငှားယူသူမှ ယာယီတပ်ဆင်ထားသောပစ္စည်းများ၊ စက်ကရိယာများ (သို့) ဖြည့်စွက်ပစ္စည်းတို့အား မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦ ဥပစာမှ ဖယ်ရှားသယ်ဆောင် ခွင့်ပြုရမည်။

၅။ ငှားရမ်းသည့်စာချုပ်ရပ်စဲခြင်း

ငှားရမ်းသည့်သက်တမ်းကာလအတွင်း၌ မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် မြေ၊စက်ရုံ၊အဆောက်အဦ (သို့) အစိတ်အပိုင်းတစ်ခုခု မည်သည့်အချိန်တွင်မဆို ပျက်စီးခဲ့လျှင် (သို့) ပျက်စီးသည့် ကိစ္စရပ်တွင် ဤငှားရမ်းခြင်းမှာ အလိုအလျောက် အသုံးမဝင်ဖြစ်သွားမည်ဖြစ်ပြီး ငှားရမ်းခြင်းစာချုပ် ရပ်စဲသွားမည်ဖြစ်သည်။ ထို့အပြင် အငှားချထားသူ (သို့) အငှားယူသူတို့အပေါ်တွင် တောင်းဆိုခြင်းမရှိစေရ (သို့) တာဝန်မကျရောက်စေရ။

၆။ စာချုပ်သက်တမ်း

ဤစာချုပ်၏ သက်တမ်းအား နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (     ) နှစ်သတ်မှတ်သည်။ စာချုပ်သက်တမ်းကုန်ဆုံး၍ နောက်ထပ်ဆက်လက်၍ ငှားရမ်းခြင်းအား နှစ်ဦးနှစ်ဖက်ဆန္ဒရှိပါက စေ့စပ်ညှိနှိုင်း၍ စာချုပ်အသစ်တစ်ရပ်အား ထပ်မံချုပ်ဆိုကြမည်ဖြစ်သည်။

၇။ အငှားချထားသူ (သို့) အငှားယူသူသည် ဤစာချုပ်တွင်ဖော်ပြထားသော ငှားရမ်းကာလမကုန်ဆုံးမီ ဆက်လက်၍ ငှားရမ်းလိုလျှင်ဖြစ်စေ၊ ဆက်လက်၍မငှားရမ်းလိုတော့လျှင် ဖြစ်စေ ငှားရမ်းကာလမကုန်ဆုံးမီ (       )လ ကြိုတင်၍ အကြောင်းကြားစာ ပေးပို့ရမည်။

၈။ ငှားရမ်းခြင်းသက်တမ်းမပြည့်သေးမီ အငှားယူသူမှ ဖယ်ရှားပေးခဲ့လျှင် ပေးထားပြီးဖြစ်သောငှားရမ်းခငွေ တစ်စုံတစ်ရာအား အငှားယူသူမှ ပြန်လည်ရရှိမည်မဟုတ်ကြောင်းနှင့် ငှားရမ်းခြင်းသက်တမ်းမပြည့်သေးမီ အငှားချထားသူမှလည်း အငှားယူသူအား ဖယ်ရှားနှင်ထုတ်ခြင်းမပြုလုပ်ရကြောင်း နှစ်ဦးနှစ်ဖက်မှ နားလည်သဘောပေါက်ကြသည်။

၉။ ဤစာချုပ်၏ စည်းကမ်းချက်များ၊ သဘောတူညီချက်များ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများနှင့်အမိန့်ကြော်ငြာချက်များကို လိုက်နာကြရန် အငှားယူသူနှင့်အငှားချထားသူတို့ နှစ်ဦးနှစ်ဖက်မှ သဘောတူကြသည်။ ဤ 'နှစ်ဦးသဘောတူ မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦ ထပ်ဆင့်ငှားရမ်းခြင်း ကတိစာချုပ်' အား ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အတွင်း ဥပဒေနှင့်အညီ ချုပ်ဆို၍လွှမ်းမိုးသည်။

၁၀။ အနည့ာတစီရင်ဆုံးဖြတ်ခြင်း

(၁) ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက်မှ ငြိမ်းချမ်းသော နည်းလမ်းဖြင့် ဖြေရှင်းရမည်။ အငြင်းပွားမှုအား ငြိမ်းချမ်းစွာ ဖြေရှင်း၍မရပါက အငြင်းပွားသည့်ကိစ္စရပ်အား အငှားချထားသူမှ စာဖြင့်ရေးသားသဘောတူ၍ရွေးချယ်သည့် အဖွဲ့ဝင်(၁)ဦး၊ အငှားယူသူမှရွေးချယ်သည့် အဖွဲ့ဝင်(၁)ဦးနှင့် ၎င်းတို့(၂)ဦးမှ ရွေးချယ်သည့် အဖွဲ့ဝင်(၁)ဦး စုစုပေါင်းအဖွဲ့ဝင်(၃)ဦးပါဝင်သည့် ခုံသမာဓိကော်မတီထံသို့ တင်ပြ၍ အဆုံးအဖြတ်ခံယူရမည်။

(၂) အနည့ာတစီရင်ဆုံးဖြတ်ခြင်းလုပ်ငန်းစဉ်အား ခုံသမာဓိကော်မတီဖွဲ့စည်းပြီး (၁၀)ရက်အတွင်း ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ရန်ကုန်မြို့၌ ဆောင်ရွက်သွားမည်ကို နှစ်ဦးနှစ်ဖက်မှ သဘောတူကြသည်။ ခုံသမာဓိကော်မတီသည် အမှုနှင့်စပ်လျဉ်း၍ နှစ်ဦးနှစ်ဖက်မှ တင်ပြချက်များရရှိပြီးနောက် ရက်ပေါင်း(၃၀) အတွင်း ဆုံးဖြတ်ချက် ချမှတ်ပေးရမည်။ ခုံသမာဓိကော်မတီ၏ ဆုံးဖြတ်ချက်သည် (၁)အပြီးသတ်ဖြစ်သည် (၂) နှစ်ဘက်အငြင်းပွားသူနှင့် ၎င်းတို့ကိုဆက်ခံအရေးဆိုသူတို့အပေါ်တွင် စည်းနှောင်မှုရှိသည် (၃) စီရင်ပိုင်ခွင့်အာဏာရှိသောမည့်သည့် တရားရုံးကဖြစ်စေ အငြင်းပွားသူတစ်ဦးဦးအပေါ်တွင် အတည်ပြုဆောင်ရွက်နိုင်သည်။

(၃) စီရင်ချက်ချမှတ်ခြင်းခံရသူသည် အနည့ာတစီရင်ဆုံးဖြတ်ချက်နှင့်ဆက်စပ်သည့် ကုန်ကျစရိတ်ငွေအားလုံးတွင် တာဝန်ရှိသည်။

(၄) အထက်တွင်ဖော်ပြခဲ့သောအပိုဒ်များ၌ မပါဝင်သည့်ကိစ္စရပ်များနှင့်စပ်လျဉ်း၍လည်း အနညာတ စီရင်ဆုံးဖြတ်ခြင်းဥပဒေ (၂၀၁၆) အား အသုံးပြုသွားမည်ဖြစ်သည်။

၁၁။ ဤစာချုပ်ပါအချက်အလက်များအား လုပ်ငန်းလိုအပ်ချက်များအရ ပြင်ဆင်ရန်လိုအပ်လာပါက နှစ်ဦးနှစ်ဖက်မှပြန်လည် ညှိနှိုင်းဆောင်ရွက်သွားမည် ဖြစ်သည်။

၁၂။ ငှားရမ်းမြေ ပြန်လည်လွှဲပြောင်းပေးခြင်း

စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် (၁)လအတွင်း ငှားရမ်းထားသော မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦများအား အငှားချထားသူထံသို့ လက်ရောက်ပြန်လည်လွှဲပြောင်းပေးသွားမည်ဖြစ်ပြီး ရွှေ့ပြောင်း၍မရနိုင် သောပစ္စည်းများကို အငှားချထားသူထံသို့ပြန်လည်အပ်နှံပြီး၊ ရွှေ့ပြောင်းနိုင်သော(အငှားယူသူပိုင်)ပစ္စည်းများကို အငှားယူသူမှ ဖြုတ်ယူသယ်ဆောင်သွားနိုင်သည်။

၁၃။ ဘာသာစကား

ဤစာချုပ်အား မြန်မာဘာသာနှင့်အင်္ဂလိပ်ဘာသာ နှစ်မျိုးဖြင့်ရေးသား ထားရှိသွားမည်ဖြစ်ပြီး အကယ်၍ ဘာသာစကားနှစ်ခုပဋိပက္ခဖြစ်ခဲ့လျှင် မြန်မာဘာသာဖြင့်ရေးသားထားသော စာချုပ်ကိုသာလျှင် တရားဝင်အတည်ပြု အသုံးပြုသွားမည် ဖြစ်ပါသည်။

ဤ 'နှစ်ဦးသဘောတူ မြေ၊စက်ရုံနှင့်ရုံးခန်းအဆောက်အဦ ထပ်ဆင့်ငှားရမ်းခြင်း ကတိစာချုပ်' ပါ စကားရပ်အသီးသီးအား မိမိတို့ကိုယ်တိုင် သေချာစွာဖတ်ရှု၊ သိရှိ၊ နားလည်၊ သဘောပေါက်ကြပြီး မည်သူတစ်ဦးတစ်ယောက်၏ ခြိမ်းခြောက်ခြင်း၊ သွေးဆောင်ခြင်း၊ ဖြားယောင်းခြင်း၊ မလျော်သြဇာသုံးခြင်း အလျဉ်းမရှိဘဲ မိမိတို့ကိုယ်စိတ်နှလုံး ကျန်းမာရွှင်လန်းစဉ်တွင် မိမိတို့၏လွတ်လပ်သော သဘောဆန္ဒအရ အောက်ပါအသိသက်သေများ၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။



| | |
|---|---|
| **အငှားချထားသူ** | **အငှားယူသူ** |
| Sun City Bago Industry Land Developmemt Ltd | Co.,Ltd |
| (ကိုယ်စား) | ( ကိုယ်စား ) |
| အမည် - | အမည် - |
| ရာထူး - | ရာထူး - |
| မှတ်ပုံတင်/<br>နိုင်ငံကူးလက်မှတ် - | မှတ်ပုံတင်/<br>နိုင်ငံကူးလက်မှတ် - |

Sublease Agreement on Land, Factory and Office

The Sublease Agreement on Land, Factory and Office is signed by the following two parties on , 2019.

Lessor : Sun City Bago Industry Land Development Ltd

(Agent)

Mr.

Add : No.39-40, 9th floor, 8th Ward, Hledan Street, Kamaryut Township, Yangon

Lessee :

(Agent)

Mr.

Add :

(The above-mentioned lessor and lessee in this agreement, besides him/herself, include his/her successor, legitimate agent and authorized manager and person in charge, etc.)

The meaning of the following words in this Agreement, provided that they are not contrary to the Laws in force of the Republic of the Union of Myanmar and Rules, is expressed as follows:

(1) Lessor is Sun City Bago Industry Land Development Ltd .

(2) Lessee is --------------

(3) Both parties refer to the lessor and the lessee.

(4) Land refers to the ( ) zone of the Sun City Project and the land area is (square foot).

(6) Factory refers to the ( ) zone of the Sun City Project, and (length),(width),(high) of ( ) factory.

(5) Office refers to the ( ) zone of the Sun City Project, and (length), (width),(high) of office.

(7) Sun City Project refers to the project that will be leased after construction of factories and offices.

(8) The project means (------------- factory) to be constructed by the lessee. .

(9) The agreement refers to the sublease agreement between the two parties on land, factory and office.

(10) Force Majeure refers to events in addition to natural flood, wind disaster, fire, earthquake, it also includes government prohibition clauses, sanctions by law, wars and parades, and Force Majeure events between the two Parties..

(The lessor guarantees itself is legally incorporated pursuant to the Myanmar Company Law, and has legally planned and entitled to sublease land, factory and offices.)

1. Rent and terms of lease

The lessor agrees to lease the land, factory and office, and the lessee also agrees to lease it for (USD ) per month. The lease term is from (year/ month/date) to(year/month/date).

2. Payment of Rent

The annual rent is ( ) US dollars, the lessee will pay on (year/ month/date) and the lessor will sign for receiving it.

3. Responsibilities of the lessee

(3.1) The land, factory and offices leased by the lessee shall only be used for (---------------- factory) projects. If used irrelevant to the content of the agreement or violating the existing laws, the lessee will bear his own responsibility, and the agreement will terminate on the date of execution.

(3.2) During the lease period, the lessee has no right to sublet, replace, mortgage or sale of the leased land, factory and office.

(3.3) The lessee will submit a letter of approval or permission to the Myanmar Investment Commission according to the project requirement.

(3.4) During term of lease, should lessee violate government laws, resulting in the seizure or confiscation of the leased land, factory and office, as well as of other land, factory and offices beyond the scope of rent by lessee but under the management of the lessor, the lessee should make compensation to the lessor at the market price of that time covering the whole land and factory.

(3.5) The lessee shall be responsible for foreign technicians, employees and their families from him compliance with Myanmar laws and regulations during their staying in Myanmar, and ensure them not participate in Myanmar's internal affairs.

(3.6) Responsible for payment of rent for factory and office, also municipal tax and utilities concerning.

(3.7) No minor adjustments or big change will be made to land, factory or office without written consent of the lessor.

(3.8) For purpose of necessary inspection, the lessor or his agent shall be allowed to enter the land, factory and office for check, when written notice is given in advance at the appropriate time.

(3.9) If the leased land, factory and offices are damaged or suffered losses because of the lessee or its employees, the lessee shall make corresponding compensation to the lessor, which does not include natural damage.

